ရက်စွဲ။ ၃၁-၈-၂၀၁၈

Powergen Kyaukse Co., Ltd. နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်းလျှောက်ထားလွှာ တင်ပြလာခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာအပေါ် အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ တင်ပြလာခြင်း | ၁၀-၈-၂၀၁၈ | ၁၀-၈-၂၀၁၈ | |
| ၄ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၁၃-၈-၂၀၁၈ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့ တင်ပြခြင်း | ၂၀-၈-၂၀၁၈ (၂၄/၂၀၁၈) | | |
| ၆ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၂၈-၈-၂၀၁၈ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၃၁-၈-၂၀၁၈ | | |
| ၈ | အဆိုပြုချက်အားကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၄/၂၀၁၈ (၇-၉-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၁၈ ရက်** | | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Powergen Kyaukse Co., Ltd. တည်ထောင်ပြီး ၁၄၅ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Powergen Kyaukse Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | ဦးမောင်ကျေး |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>National Infrastructure Holdings Co., Ltd. (မြန်မာနိုင်ငံ) ၅၄ %<br>Myanmar Chemical and Machinery Co., Ltd. (မြန်မာနိုင်ငံ) ၃၇ %<br>SEPCOIII Electric Power Corporation (တရုတ်ပြည်သူ့သမ္မတနိုင်ငံ) ၉ % |
| | လုပ်ငန်းအမျိုးအစား | - ၁၄၅.၄၉ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘဲလင်းကျေး ရွာ၊ ၂၃၀ ကေဗွီ ဘဲလင်းဓာတ်အားခွဲရုံရှိမြေ ၁၀.၁၂ ဧက |
| ၃။ | မြေပိုင်ရှင် | - လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်း |
| | မြေအကျယ်အဝန်း | - မြေ ၁၀.၁၂ ဧက |
| | နှစ်စဉ်မြေငှားရမ်းခ | - Letter of Acceptance (LOA) ၏ Form of Agreement နှင့် ဓာတ်အား ဝယ်ယူရေး စာချုပ် အပိုဒ် ၃(က)(၁နှင့်၂)တွင် ဖော်ပြထားမှုအရ လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ အား ထောက်ပံ့ပေးရန်နှင့် မြေပုံအညွှန်းပါမြေဧရိယာအား အဆိုပြု စီမံကိန်း အတွက် သီးသန့် အသုံးပြုခွင့်ပေးကြောင်း ဖော်ပြပါရှိပါသည်။ |
| | မြေအသုံးပြုခွင့်သက်တမ်း | - ၅ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၅ နှစ် (လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနနှင့် ချုပ်ဆိုမည့် ဓာတ်အားဝယ် ယူရေးစာချုပ်တွင် စာချုပ်သက်တမ်းအရ ၅ နှစ်ဟု ဖော်ပြထား ပါသည်။)<br>- မြန်မာနိုင်ငံ၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်အပေါ် မူတည်၍ ဓာတ်အား ဝယ်ယူရေး စာချုပ်အား တိုးမြှင့်ချုပ်ဆိုသွားမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။ |
| ၅။ | တည်ဆောက်ရေးကာလ | - ၂၈၆ ရက် (၉ လ) |

| | | |
|---|---|---|
| ၆။ | စုစုပေါင်း မတည်ငွေရင်း | ပြည်တွင်း US$ သန်း / ပြည်ပ US$ သန်း / စုစုပေါင်း US$ သန်း |
| | ငွေသား | ၄.၄၃ / - / ၄.၄၃ |
| | စက်ပစ္စည်းကိရိယာများ၏ တန်ဖိုး | - / ၇၄.၉၄ / ၇၄.၉၄ |
| | အဆောက်အအုံဆောက်လုပ်မှု ကုန်ကျစရိတ် | ၇.၅၃ / - / ၇.၅၃ |
| | ကျွမ်းကျင်မှုနည်းပညာရပ် | - / ၅.၇၄ / ၅.၇၄ |
| | အခြား | ၀.၀၄ / - / ၀.၀၄ |
| | **စုစုပေါင်း** | **၁၂.၀၀** / **၈၀.၆၈** / **၉၂.၆၈** |
| | | *ချေးငွေအဖြစ် US$ ၆၄.၈၅ သန်းအား ချေးယူသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၇။ | ဝင်ငွေရရှိမှုအခြေအနေ | ထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား (kWh/year) / ဈေးနှုန်း (US$/ kWh) / ရရှိမည့်ဝင်ငွေ US$(million) |
| | | ၁,၀၁၉,၅၉၆,၇၂၀ / ၀.၀၃၂ / ၃၂.၄၂ |
| ၈။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၉။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ** |
| | ဦးရေ | ၃၆ ဦး / ၆ ဦး |
| | အနိမ့်ဆုံးလစာ | US$ ၁,၀၀၀ / US$ ၂,၀၀၀ |
| | အမြင့်ဆုံးလစာ | US$ ၃,၀၀၀ / US$ ၁၀,၀၀၀ |
| ၁၀။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် National Infrastructure Holdings Co., Ltd. မှ မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ်၌ ၁-၃-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁,၄၆၄,၁၄၅.၅၉ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | CSR | - Corporate Social Responsibility (CSR) အနေဖြင့် အသားတင် အမြတ်၏ ၂% သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | အခြားတင်ပြချက်များ | - National Infrastructure Holdings Co., Ltd., Tellhow International Engineering & Contracting Company Limited, Myanmar Chemical & Machinery Co., Ltd. and SEPCOIII Electric Power Construction Co., Ltd. တို့အကြား ၂၀၁၈ခုနှစ် မတ်လ ၆ ရက်နေ့တွင် ချုပ်ဆိုထားသည့် Consortium Agreement ပူးတွဲတင်ပြထားပါသည်။<br>- လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေး လုပ်ငန်းနှင့် Consortium of National Infrastructure Holdings Co., Ltd., Tellhow International Engineering & Contracting Company Limited, Myanmar Chemical & Machinery Co., Ltd. and SEPCOIII Electric Power Construction Co., Ltd. တို့အကြား ၂၀၁၈ |

| | | |
|---|---|---|
| | | ခုနှစ် မေလ ၇ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားသော Letter of Acceptance (LOA) အား ပူးတွဲတင်ပြထားပါသည်။<br>- လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Powergen Kyaukse Co., Ltd. တို့ကြား ချုပ်ဆိုထားသည့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေး စာချုပ်(မူကြမ်း)အား တင်ပြထားပါသည်။ |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(လ)/ခ-၁၁၅/၂၀၁၈( ၂၈၆ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဩဂုတ်လ ၂၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Powergen Kyaukse Company Limited မှ ၁၄၅.၄၉ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ National Infrastructure Holdings Co., Ltd. မှ ၅၄%၊ Myanmar Chemical and Machinery Co., Ltd. မှ ၃၇% နှင့် တရုတ်နိုင်ငံ SEPCOIII Electric Power Corporation Co., Ltd. မှ ၉% ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Powergen Kyaukse Co., Ltd. တည်ထောင်ပြီး လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနပိုင် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဘဲလင်းရှိ ၂၃၀ ကေဗွီ ဘဲလင်းဓာတ်အားခွဲရုံဝန်းအတွင်းရှိ မြေ ၁၀.၁၂ဧက တွင် ၁၄၅.၄၉ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။ **နောက်ဆက်တွဲ**

၂။ အဆိုပြုချက်နှင့်အတူ National Infrastructure Holdings Co., Ltd., Tellhow International Engineering & Contracting Company Limited, Myanmar Chemical & Machinery Co., Ltd. and SEPCOIII Electric Power Construction Co., Ltd. တို့အကြား ၂၀၁၈ ခုနှစ် မတ်လ ၆ ရက်နေ့တွင် ချုပ်ဆိုထားသည့် Consortium Agreement၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေး လုပ်ငန်းနှင့် Consortium of National Infrastructure Holdings Co., Ltd., Tellhow International Engineering & Contracting Company Limited, Myanmar Chemical & Machinery Co., Ltd. and SEPCOIII Electric Power Construction Co., Ltd. တို့အကြား ၂၀၁၈ ခုနှစ် မေလ ၇ ရက်နေ့ရက်စွဲဖြင့် ချုပ်ဆိုထားသော Letter of Acceptance (LOA)နှင့် လျှပ်စစ်ဓာတ်အားထုတ် လုပ်ရေးလုပ်ငန်းနှင့် Powergen Kyaukse Co., Ltd. တို့ကြား ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေးစာချုပ်(မူကြမ်း) တို့အား ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလနှင့် ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့် ကာလမှာ စီးပွားဖြစ်လုပ်ငန်း စတင်လည်ပတ်သည့်နေ့မှစ၍ ၅ နှစ် ဖြစ်ပြီး မြန်မာနိုင်ငံ၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်အပေါ် မူတည်၍ ဓာတ်အားဝယ်ယူရေး စာချုပ်အား တိုးမြှင့်ချုပ်ဆိုသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ တည်ဆောက်ရေးကာလမှာ ၉ လ ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၉၂.၆၈ သန်းဖြစ်ပြီး ချေးငွေပမာဏမှာ စုစုပေါင်း မတည်ငွေရင်း ပမာဏ၏ ၇၀% ဖြစ်သော အမေရိကန်ဒေါ်လာ ၆၄.၈၅ သန်း ပါဝင်ပါသည်။ ရင်းနှီးမြှုပ်နှံမှု ပုံစံမှာ တစ်ဘက်ပါအတိုင်းဖြစ်ပါသည်-

**ကန့်သတ်**

| | ပြည်တွင်း US$ သန်း | ပြည်ပ US$ သန်း | စုစုပေါင်း US$ သန်း |
|---|---|---|---|
| ငွေသား | ၄.၄၃ | - | ၄.၄၃ |
| စက်ပစ္စည်းကိရိယာများ၏ တန်ဖိုး | - | ၇၄.၉၄ | ၇၄.၉၄ |
| အဆောက်အအုံဆောက်လုပ်မှု ကုန်ကျစရိတ် | ၇.၅၃ | - | ၇.၅၃ |
| ကျွမ်းကျင်မှုနည်းပညာရပ် | - | ၅.၇၄ | ၅.၇၄ |
| အခြား | ၀.၀၄ | - | ၀.၀၄ |
| **စုစုပေါင်း** | **၁၂.၀၀** | **၈၀.၆၈** | **၉၂.၆၈** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၃၆ ဦး၊ ပြည်ပဝန်ထမ်း ၆ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၃,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၁၀,၀၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်းမှ ထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား (ပထမနှစ်) တွင် ကီလိုဝပ်နာရီသန်းပေါင်း ၁,၀၁၉.၆၀ ထုတ်လုပ်မည်ဖြစ်ပြီး ဓာတ်အားခ တစ်ယူနစ်လျှင် US$ ၀.၀၃၂ နှုန်းဖြင့် ရောင်းချမည်ဖြစ်ပါသည်။

၇။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Powergen Kyaukse Co., Ltd. တို့ကြားချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေးစာချုပ်(မူကြမ်း)အားတင်ပြထားပါသည်။ အဆိုပါ စာချုပ် (မူကြမ်း)ပါအဓိက အချက်အလက်များမှာ အောက်ပါ အတိုင်း ဖြစ်ပါ သည်-

(က) လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် ကျောက်ဆည်ရှိ ၁၃၂ ကေဗွီ ဘဲလင်းဓာတ်အားခွဲရုံနှင့်ချိတ်ဆက်၍ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးသွယ်တန်းခြင်းအတွက် ခွင့်ပြုချက်ရယူရာ၌ ကူညီရန်နှင့် Powergen Kyaukse Co., Ltd. မှ ဆောင်ရွက်မည့် Scope of services တွင် လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးသွယ်တန်းခြင်းအတွက် ကူညီပေးရန်နှင့် ဓာတ်အားလိုင်းများ ချိတ်ဆက်မည့် ဝန်ဆောင်မှု လုပ်ငန်းများနှင့် အခြားသော ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းနှင့် ဆက်စပ်သည့်တည်ဆောက်မှုအတွက် ပါဝင်ပတ်သက်သူများနှင့် ပူးပေါင်းဆောင်ရွက်ရမည် ဖြစ်ပါသည်။ **အပိုဒ်-၃(က-ဖ)**

(ခ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် Capacity Charges နှင့် Fuel Charges များကို ယင်းနေ့တွင် မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သတ်မှတ်ငွေလဲနှုန်းထားဖြင့် လစဉ်ပေးချေရ မည်ဖြစ်ပါသည်။ **အပိုဒ်-၄(ခ) နှင့်(ဂ)**

(ဂ) လျှပ်စစ်ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့် သက်တမ်းမှာ စီးပွားဖြစ် လုပ်ငန်းစတင် လည်ပတ်သည့်နေ့မှစ၍(၆၀)လဖြစ်ပါသည်။ **အပိုဒ် - ၆**

၈။ ငွေကြေးအထောက်အထားအဖြစ် National Infrastructure Holdings Company Limited အမည်ဖြင့် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် ၁-၃-၂၀၁၈ ရက်စွဲဖြင့် US$ ၁,၄၆၄,၁၄၅.၅၉ ရှိကြောင်း တင်ပြထားပါသည်။

၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၈ ခုနှစ် ဩဂုတ်လ ၁၀ ရက်နေ့ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၂၀၁၈ ခုနှစ် ဩဂုတ်လ ၂၀ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ ၂၄/၂၀၁၈ အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းမှ ဝန်ထမ်းများ လူမှုဖူလုံရေးနှင့် သက်သာချောင်ချိမှုဆောင်ရွက်မည့်အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းမှ ရွှေသဘာဝဓာတ်ငွေ့ စီမံကိန်းမှ ထွက်ရှိသည့် သဘာဝဓာတ်ငွေ့အား တစ်နေ့လျှင် ၂၈.၅ ကုဗပေသန်းပေါင်းနှုန်းဖြင့် ပံ့ပိုးပေးသွားမည်ဖြစ်ပြီး ကုမ္ပဏီဘက်မှ South East Asia Gas Pipeline-SEAGP off-take Point မှ လုပ်ငန်းနေရာသို့ ၁၀လက်မ ပိုက်လိုင်းဖြင့် ၄.၈၅မိုင်အကွာအဝေးသို့ ပိုက်လိုင်းအသစ်သွယ်တန်းရမည်ဖြစ်ကြောင်း လျှပ်စစ်ဓာတ်အားဝယ်ယူရေးစာချုပ်(မူကြမ်း)တွင် ထည့်သွင်းထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်း အမျိုးအစားနှင့် အလားတူလုပ်ငန်းဖြစ်သည့် သဘာဝဓာတ်ငွေ့သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ၂ ခု အနေဖြင့် ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Sembcorp Myingyan Power Co., Ltd. အားလည်းကောင်း၊ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် U Energy Thaketa Power Co., Ltd. အားလည်းကောင်း ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီးဖြစ်ပါ သည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Powergen Kyaukse Company Limited မှ ၁၄၅.၄၉ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ




နောက်ဆက်တွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊MOEE-၂/ (၁၅)/ (င)/(NIHC)/ ( ၁၂၃၂၄ )/၂၀၁၈

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Powergen Kyaukse Company Limited မှ ကျောက်ဆည်ဒေသတွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် ၁၄၅ မဂ္ဂါဝပ်ဓာတ်အားပေးစက်ရုံ တည်ဆောက်ခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် လျှောက်ထားခြင်းအားထောက်ခံတင်ပြခြင်းကိစ္စ**

၁။ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ဒေသ၊ ဘဲလင်းရှိ ၂၃၀ ကေဗွီ ဓာတ်အားခွဲရုံတွင် ၁၄၅ မဂ္ဂါဝပ် Gas Engine ဓာတ်အားပေးစက်ရုံမှ ဓာတ်အားထုတ်လုပ်နိုင်ရေး Powergen Kyaukse Company Limited မှ အကောင်ထည်ဖော်ဆောင်ရွက်လျက်ရှိပါသည်။ အဆိုပါကုမ္ပဏီနှင့် (၅)နှစ်စာ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement) ချုပ်ဆိုနိုင်ရေး သက်ဆိုင်ရာဌာနကြီးများ၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ပြီးဖြစ်သည့် PPA စာချုပ်(မူကြမ်း) အား လက်မှတ်ရေးထိုးခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ ၉-၈-၂၀၁၈ ရက်တွင် အမှာစာတင်ပြထားပါသည်။ ထို့အပြင် မြန်မာနိုင်ငံ၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်အပေါ် မူတည်၍ ဓာတ်အားဝယ်ယူရေးစာချုပ်အား သက်တမ်းတိုးမြှင့်ချုပ်ဆိုသွားမည်ဖြစ်ပါသည်။

၂။ ထိုသို့ဆောင်ရွက်နေစဉ်ကာလအတွင်း သက်ဆိုင်ရာကုမ္ပဏီမှ စီမံကိန်းလုပ်ငန်းများ စတင်အကောင်အထည်ဖော်နိုင်ရန်အတွက် Letter of Acceptance (LoA) အား ၇-၅-၂၀၁၈ ရက်တွင် ဤဝန်ကြီးဌာနမှ ထုတ်ပေးထားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Powergen Kyaukse Company Limited မှ ဓာတ်အားပေးစက်ရုံတည်ဆောက်ပြီး မြန်မာနိုင်ငံအတွင်း လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားမှုအပေါ် လိုအပ်သလိုကူညီဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက်။ Powergen Kyaukse Company Limited မှ အဆိုပြုတင်ပြချက် (၁) အုပ်

ပြည်ထောင်စုဝန်ကြီး( )

(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

Policy\G\MOEE2018\Form 2018\MOEP-I.J4(Sun&ro)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊MOEE-၂/(၁၅)/(Powergen)(၁၂၄၇၅)/၂၀၁၈

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကျောက်ဆည်ဒေသတွင်တည်ဆောက်မည့် ၁၄၅ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံအတွက် လုပ်ငန်းဆောင်ရွက်မည့် Powergen Kyaukse Company Limited မှ Gas Engine များနှင့် ဆက်စပ်ပစ္စည်းများအချိန်မီတင်သွင်းနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် ထောက်ခံတင်ပြခြင်းကိစ္စ

ရည်ညွှန်းချက် ။ ဤဝန်ကြီးဌာန၏ ၁၀-၈-၂၀၁၈ ရက်စွဲပါစာအမှတ် MOEE-၂ / (၁၅) / (c) / (NIHC) / (၁၂၃၂၄) / ၂၀၁၈

၁။ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ဒေသ၊ ဘဲလင်း ၂၃၀ ကေဗွီ ဓာတ်အားခွဲရုံတွင် Powergen Kyaukse Company Limited မှ ၁၄၅ မဂ္ဂါဝပ် Gas Engine ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး မြန်မာနိုင်ငံအတွင်းလျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချရန်အတွက်လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လျှောက်ထားမှုအပေါ် လိုအပ်သလိုကူညီဆောင်ရွက်ပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ အဆိုပါကုမ္ပဏီနှင့် (၅) နှစ်စာဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement) ချုပ်ဆိုနိုင်ရေး သက်ဆိုင်ရာဌာနများ၏သဘောထားမှတ်ချက်နှင့်အညီပြင်ဆင်ပြီးဖြစ်သည့် PPA စာချုပ် (မူကြမ်း) အားလက်မှတ်ရေးထိုးခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီသို့ (၉-၈-၂၀၁၈)ရက်တွင် အမှာစာတင်ပြထားပါသည်။

၃။ ဤဝန်ကြီးဌာနမှ Powergen Kyaukse Company Limited သို့ Letter of Acceptance (LOA) ထုတ်ပေးခဲ့သော ၇-၅-၂၀၁၈ ရက်မှစ၍ ကုမ္ပဏီသည် စီမံကိန်းလုပ်ငန်းများစတင်အကောင်ထည်ဖော်ဆောင်ရွက်ခဲ့ရာ လက်ရှိတွင် စီမံကိန်းမြေနေရာအား ရှင်းလင်းပြီးစီးပြီဖြစ်၍ Gas Engine များ တည်ဆောက်နိုင်ရန် Civil Works များဆောင်ရွက်လျက်ရှိပါသည်။ ထို့အပြင် စီမံကိန်းတွင် တပ်ဆင်အသုံးပြုမည့် Gas Engine (၈) လုံးအား Wartsila ကုမ္ပဏီမှ အီတလီနိုင်ငံတွင် တည်ဆောက်ထုတ်လုပ်ခဲ့ပြီးဖြစ်၍ ၃-၈-၂၀၁၈ ရက်နေ့တွင် အီတလီနိုင်ငံ၊ Trieste ဆိပ်ကမ်းမှ သင်္ဘောတင်၍ မြန်မာနိုင်ငံသို့ တင်ပို့ခဲ့ပြီး ၂၀၁၈ ခုနှစ် ဩဂုတ်လကုန်တွင် မြန်မာနိုင်ငံ၊ ရန်ကုန်ဆိပ်ကမ်းသို့ ဆိုက်ရောက်မည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ကျောက်ဆည်ဒေသတွင်တည်ဆောက်မည့် ၁၄၅ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံအတွက် လုပ်ငန်းဆောင်ရွက်မည့် Powergen Kyaukse Company Limited မှ Gas Engine များနှင့် ဆက်စပ်ပစ္စည်းများ အချိန်မီ တင်သွင်းနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့် ထုတ်ပေးနိုင်ရေး လိုအပ်သလိုကူညီဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ဒေါက်တာထွန်းနိုင်၊ ဒုတိယဝန်ကြီး)